# Seinn Ou Yin Company Limited

Land Plot No.(2-Kha/2-Ga) Ground Survey Block No.(Tha/3), Pyi Gyi Ta Gon Township, Mandalay Region, Myanmar.

---

သို့/-

ဥက္ကဌ
မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှပ်နှံမှုကော်မတီ
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီး။

ရက်စွဲ ။ ။ ၂၀၁၉ ခုနှစ်၊ ဇွန်လ(၂၁)ရက်

အကြောင်းအရာ။ ။ CSR (Corporate Social Responsibility) လူမှုဘဝသာယာဝပြောရေး တာဝန်ယူမှုနှင့် ပတ်သက်၍ ရှင်းလင်းတင်ပြခြင်း ။

ကျွန်တော်များ **"SEINN OU YIN COMPANY LIMITED"** သည် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊မြေတိုင်းရပ်ကွက်အမှတ်-(သ/၃)၊ မြေကွက်အမှတ်-(၂-ခ + ၂-ဂ) ဟုခေါ်တွင်သော မြေဧရိယာ (၀. ၄၅၉၁) ဧကရှိ မြေကွက်ပေါ်တွင် ကြယ်သုံးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှပ်နှံမှု ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာကို ပေးပို့တင်ပြထားပါသည်။

အဆိုပါ အတည်ပြုလျှောက်ထားလွှာတင်ပြထားသောလုပ်ငန်းမှ အသားတင်အမြတ်ငွေထဲမှ (၂%)အား Corporate Social Responsibility အတွက်ထည့်ဝင်သွားမည်ဖြစ်ပါသည်။ ထို့သို့ထည့်ပေးသည့်ငွေမှ ပတ်ဝန်းကျင်ထိန်းသိမ်းပြုပြင်ရေးအတွက် (၂၀%)၊ ဟိုတယ်ပတ်ဝန်းကျင်ရှိ သာရေးနာရေးအတွက်(၂၀%)၊ စာသင်ကျောင်းများ၏ ဘက်စုံဖွံ့ဖြိုးတိုးတက်ရေးအတွက် (၂၀%)၊ ဘိုးဘွားရိပ်သာများနှင့်အခါအားလျော်စွာပရဟိတလုပ်ငန်းများ အတွက်(၂၀%)၊ မိဘမဲ့ဂေဟာများ၊ ဘာသာရေးနှင့် သာသနာထွန်းလင်းပြန့်ပွားရေးအတွက် (၂၀%) အသုံးပြုသွားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့် -

ဦးသန်းဇော်
ကမကထပြုသူ
စိမ်းဥယျာဉ် ကုမ္ပဏီလီမိတက်
SEINN OU YIN COMPANY LIMITED

# Seinn Ou Yin Company Limited

**Land Plot No.(2-Kha/2-Ga) Ground Survey Block No.(Tha/3), Pyi Gyi Ta Gon Township,**

**Mandalay Region, Myanmar.**


## ကျန်းမာရေးအတွက်စီစဉ်ထားရှိမှု

ကျွန်တော်များ **" SEINN OU YIN COMPANY LIMITED "** သည် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊မြေတိုင်းရပ်ကွက်အမှတ်-(သ/၃)၊ မြေကွက်အမှတ်-(၂-ခ + ၂-ဂ) ဟုခေါ်တွင်သော မြေဧရိယာ (၀. ၄၅၉၁) ဧကရှိ မြေနေရာတွင် ကြယ်သုံးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

(က) ကုမ္ပဏီတွင် အရေးပေါ်ကုသနိုင်ရန်အတွက် ဆေးနှင့်ဆေးပစ္စည်း၊ အထောက်အကူပြု ပစ္စည်းများကို ထားရှိပေးမည် ဖြစ်ပါသည်။

(ခ) ကုမ္ပဏီတွင် ရှေးဦးသူနာပြုသေတ္တာများနှင့် နာမကျန်းသူများနားနေခန်း(၁)ခန်း စီစဉ်ထားရှိပါသည်။

(ဂ) ထိခိုက်ဒဏ်ရာရရှိပါက လူမှုဖူလုံရေးဆေးခန်းသို့ စေလွှတ်၍ ဆေးဝါးကုသမှု ခံယူစေပါသည်။

(ဃ) အရေးပေါ် ထိခိုက်ဒဏ်ရာရရှိသည့် ဝန်ထမ်းအား ရှေးဦးသူနာပြုစုပေးနိုင်ရန်အတွက် အခါအားလျော်စွာ ကျန်းမာရေးနှင့်ဆိုင်သည့် ပညာပေးသင်တန်းများသို့ (၃)လ(၁)ကြိမ် စေလွှတ်သင်ကြားစေမည်ဖြစ်ပါသည်။

(င) ကုမ္ပဏီတွင် နှစ်ရှည်အလုပ်လုပ်သည့် ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် လိုအပ်ပါက ဆေးကုစရိတ်ကိုလည်း ကုမ္ပဏီမှ ထောက်ပံ့ပေးမည် ဖြစ်ပါသည်။

လေးစားစွာဖြင့်

ဦးသန်းဇော်

ကမကထပြုသူ

စိမ်းဥယျာဉ် ကုမ္ပဏီလီမိတက်

SEINN OU YIN COMPANY LIMITED

# Seinn Ou Yin Company Limited

Land Plot No.(2-Kha/2-Ga) Ground Survey Block No.(Tha/3), Pyi Gyi Ta Gon Township, Mandalay Region, Myanmar.

---

သို့/-

ဥက္ကဋ္ဌ
မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီး

ရက်စွဲ ။ ။ ၂၀၁၉ ခုနှစ်၊ ဇွန်လ(၂၁)ရက်

အကြောင်းအရာ။ ။ <u>မီးဘေးအန္တရာယ်ကာကွယ်မှု အစီအမံများ</u> ။

ကျွန်တော်များ "SEINN OU YIN COMPANY LIMITED" သည် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊မြေတိုင်းရပ်ကွက်အမှတ်-(သ/၃)၊ မြေကွက်အမှတ်-(၂-ခ + ၂-ဂ) ဟုခေါ်တွင်သောမြေဧရိယာ (၀. ၄၅၉၁) ဧကရှိ မြေကွက်ပေါ်တွင် ကြယ်သုံးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာကို ပေးပို့တင်ပြထားပါသည်။

သို့ပါ၍ ကျွန်တော်များ "SEINN OU YIN COMPANY LIMITED" ၏ ကြယ်သုံးပွင့်အဆင့်ရှိနိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရာ၌ မီးဘေး အန္တရာယ်ကို ကြိုတင်ကာကွယ်နိုင်ရန်အတွက် အောက်ပါ အတိုင်းစီမံ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၁) Fire Alarm များဖြစ်သော Smoke Detector နှင့် Heat Detector များကို သင့်တော်သလိုတပ်ဆင်ပါမည်။ Manual Call Point, Alarm Bell နှင့် Fire Command Center များထည့်သွင်းတည်ဆောက်မည်ဖြစ်ပါသည်။ Fire Hosereel များကို Basement မှ Roof Floor အထိ တစ်ထပ်လျှင် (၁) လုံးစီဖြင့် အခန်းအားလုံးရေပက်ဖြန်းနိုင်ရန်ထားရှိပါမည်။

(၂) လုပ်ငန်းခွင်အတွင်းရေဂါလံ (၃၀၀၀)ဆန့်မြေအောက်ရေကန် (Under Ground Con -certe Tank) (၂)လုံး ဆောက်လုပ်မည်ဖြစ်ပါသည်။

(၃) ၄င်းရေကန်(၂)ကန်၏ အနီးတွင် အဆင်သင့် အသုံးပြုနိုင်ရန် 10 HP ရှိမော်တာနှင့် ရေစုပ်စက်အပါအဝင် မီးသတ်ပိုက် နှင့် ပိုက်ခေါင်းများ ထားရှိမည်ဖြစ်ပါသည်။

(၄) ဟိုတယ်အဆောက်အဦးအတွင်းတွင် ခေတ်မီမီးသတ်ဆေးဗူးများကို ဟိုတယ်အခန်းတိုင်းတွင်ထားရှိမည်ဖြစ်ပြီး ဟိုတယ်ဝန်းအတွင်းတွင်လည်း မီးသတ်ဆေးဘူးများကို ထားရှိမည်ဖြစ်ပါသည်။

(၅) ဟိုတယ်လုပ်ငန်းမှထွက်ရှိလာသော ဟိုတယ်အသုံးအဆောင်ပစ္စည်းများနှင့်သက်ဆိုင်သော အမှိုက်များကို စနစ်တကျနေရာသတ်မှတ်၍ ပုံထားပြီး မြို့နယ်စည်ပင်သာယာရေး ကော်မတီရုံး၏ ညွှန်ကြားချက်အတိုင်း အမှိုက်များစွန့်ပစ်ခြင်းကို ပြုလုပ်မည်ဖြစ်ပါသည်။

(၆) မြို့နယ်မီးသတ်တပ်ဖွဲ့များမှ အခါအားလျော်စွာ ပို့ချသင်ကြားပေးသည့် မီးသတ်သင်တန်းများသို့ ဟိုတယ်ဝန်ထမ်း(၁၀)ဦးကို တက်ရောက်စေပြီး ၄င်းတို့ကိုအဖွဲ့ခေါင်းဆောင်များအဖြစ်တာဝန်ပေးအပ်ပြီး မီးကာကွယ်ငြိမ်းသတ်ရေးအဖွဲ့များဖွဲ့စည်းထားရှိမည်ဖြစ်ကြောင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့် -

ဦးသန်းဇော်
ကမကထပြုသူ
စိမ်းဥယျာဉ် ကုမ္ပဏီလီမိတက်
SEINN OU YIN COMPANY LIMITED

သို့/-

ဥက္ကဌ
မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီး။

ရက်စွဲ ။ ။ ၂၀၁၉ ခုနှစ်၊ ဇွန်လ(၂၁ )ရက်

အကြောင်းအရာ။ ။ ဟိုတယ်ဝန်ထမ်းများ၏ လုပ်ငန်းခွင်အတွင်းသာယာရေးအတွက် စီစဉ်ဆောင်ရွက်ထားမှုများအား တင်ပြခြင်း။

ကျွန်တော်များ **"SEINN OU YIN COMPANY LIMITED"** သည် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊မြေတိုင်းရပ်ကွက်အမှတ်-(သ/၃)၊ မြေကွက်အမှတ်-(၂-ခ + ၂-ဂ) ဟုခေါ်တွင်သော မြေဧရိယာ(၀. ၄၅၉၁) ဧကရှိ မြေကွက်ပေါ်တွင် ကြယ်သုံးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာကို ပေးပို့တင်ပြထားပါသည်။

သို့ပါ၍ ကျွန်တော်များ **"SEINN OU YIN COMPANY LIMITED"** ၏ ကြယ်သုံးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရာ၌ ကုမ္ပဏီအနေဖြင့် ဟိုတယ်တွင်တာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအတွက် အောက်ဖော်ပြပါကဏ္ဍာများအလိုက် ဝန်ထမ်းများလုပ်ငန်းခွင်အတွင်းသာယာရေးအတွက် စီစဉ်ဆောင်ရွက်ထားရှိမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

(၁) ဟိုတယ်ဝန်ထမ်းများအား ကြို/ပို့ယာဉ်စီစဉ်ထားရှိမှု။
ဟိုတယ်ဝန်ထမ်းများအား ကြို/ပို့ယာဉ်စီး၍ အလုပ်တက်/ဆင်းသည့် ဝန်ထမ်းများအတွက် ကြို/ပို့ဖယ်ရီကားများ စီစဉ်ထားရှိပါသည်။

(၂) ဝန်ထမ်းအိမ်ယာစီစဉ်ထားရှိမှု
ဝန်ထမ်းများအတွက် အိပ်ဆောင်ထားရှိ၍ ဝန်ထမ်းများ၏ နေထိုင်ရေးအတွက် စီစဉ်ဆောင်ရွက်ပေးထားပါသည်။ အဆိုပါဝန်ထမ်းအိမ်ရာတွင် နေထိုင်ကြသော ဝန်ထမ်းများ

အိမ်ငှားခ ပေးရန်မလိုဘဲ အခမဲ့နေထိုင်ခွင့်ရရှိသူများဖြစ်ပါသည်။အဆောင်နေ ဝန်ထမ်းများအတွက် အသုံးစရိတ်များအား လစဉ်ထောက်ပံ့ပါမည်။ အဆောင်နေဝန်ထမ်းများအတွက် အလုပ်နားချိန်တွင် အပန်းဖြေနိုင်ရန်ရုပ်မြင်သံကြားစက်များထားရှိပေးမည်ဖြစ်ပါသည်။

(၃) <u>အလုပ်ဆင်းချိန်မှန်ကန်သည့်အတွက်ပေးသည့်ဆုကြေးငွေထောက်ပံ့မှု ။</u>

ဟိုတယ်ရှိ ဝန်ထမ်းများသည် တစ်နေ့တာအလုပ်ချိန်အပြင် အချိန်ပိုဆင်းရပါက တစ်နာရီအတွက် လုပ်အားခငွေကြေးသည် (၂)ဆတွက်ချက်ပေးမည်ဖြစ်ပါသည်။

(၄) <u>ထိခိုက်ဒဏ်ရာရရှိပါကစီစဉ်ထားရှိမှု ။</u>

ဟိုတယ်အတွင်းတွင် ခေတ်မီဆေးသေတ္တာများထားရှိမည်ဖြစ်ပြီးနာမကျန်းဖြစ်သောဝန်ထမ်းများအတွက် နားနေခန်း (၁) ခန်းထားရှိမည်ဖြစ်ပါသည်။ ထိခိုက်မှုရှိပါက လူမှုဖူလုံရေးဆေးခန်း သို့ စေလွှတ်၍ ဆေးဝါးကုသမှု ခံယူစေမည်ဖြစ်ပါသည်။

လေးစားစွာဖြင့် -

ဦးသန်းဇော်

ကမကထပြုသူ

စိမ်းဉယျာဉ် ကုမ္ပဏီလီမိတက်

SEINN OU YIN COMPANY LIMITED

# Seinn Ou Yin Company Limited

Land Plot No.(2-Kha/2-Ga) Ground Survey Block No.(Tha/3), Pyi Gyi Ta Gon Township,

Mandalay Region, Myanmar.

---

သို့/-

ဥက္ကဌ
မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီး။

ရက်စွဲ ။ ။ ၂၀၁၉ ခုနှစ်၊ ဇွန်လ(၂၂)ရက်

အကြောင်းအရာ။ ။ <u>အလုပ်သမားများ၏ လစာဝင်ငွေအပေါ် ပေးဆောင်ရမည့် ဝင်ငွေခွန်နှင့် ပတ်သက်၍ ဝန်ခံချက်တင်ပြခြင်း။</u>

ကျွန်တော်များ **"SEINN OU YIN COMPANY LIMITED"** သည် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊မြေတိုင်းရပ်ကွက်အမှတ်-(သ/၃)၊ မြေကွက်အမှတ်-(၂-ခ + ၂-ဂ) ဟုခေါ်တွင်သော မြေဧရိယာ (၀. ၄၅၉၁) ဧကရှိ မြေကွက်ပေါ်တွင် ကြယ်သုံးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာကို ပေးပို့တင်ပြထားပါသည်။

အဆိုပါ အတည်ပြုလျှောက်ထားလွှာတင်ပြထားသောလုပ်ငန်းတွင် ခန့်အပ်မည့် ဝန်ထမ်းများ၏ (၁)နှစ်လစာ ကျပ်-၄,၈၀၀,၀၀၀/-(ကျပ်လေးဆယ်ရှစ်သိန်း)အထက်ရှိသော ဟိုတယ်ဝန်ထမ်းများအတွက် ဝင်ငွေခွန်ဥပဒေအရ သတ်မှတ်ထားသောလစာခွန်ကို ပေးဆောင်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့် -

ဦးသန်းဇော်
ကမကထပြုသူ
စိမ်းဦးယျာဉ် ကုမ္ပဏီလီမိတက်
SEINN OU YIN COMPANY LIMITED

# Seinn Ou Yin Company Limited

Land Plot No.(2-Kha/2-Ga) Ground Survey Block No.(Tha/3), Pyi Gyi Ta Gon Township,

Mandalay Region, Myanmar.

---

သို့/-

ဥက္ကဋ္ဌ
မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီး။

ရက်စွဲ ။ ။ ၂၀၁၉ ခုနှစ်၊ ဇွန်လ(၂၁)ရက်

အကြောင်းအရာ။ ။ နိုင်ငံခြားသားများ၏ လစာဝင်ငွေအပေါ် ပေးဆောင်ရမည့် ဝင်ငွေခွန်နှင့် ပတ်သက်၍ ဝန်ခံချက်တင်ပြခြင်း ။

ကျွန်တော်များ "**SEINN OU YIN COMPANY LIMITED**" သည် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊မြေတိုင်းရပ်ကွက်အမှတ်-(သ/၃)၊ မြေကွက်အမှတ်-(၂-ခ + ၂-ဂ) ဟုခေါ်တွင်သောမြေဧရိယာ (၀. ၄၅၉၁) ဧကရှိ ကြယ်သုံးပွင့်အဆင့်ရှိနိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာကို ပေးပို့တင်ပြထားပါသည်။

အဆိုပါ အတည်ပြုလျှောက်ထားလွှာတင်ပြထားသောလုပ်ငန်းတွင် ခန့်အပ်မည့် နိုင်ငံခြားသားများ၏လစာအတွက် ဝင်ငွေခွန်ဥပဒေအရ သတ်မှတ်ထားသောလစာခွန်ကို ပေးဆောင်ပါမည်ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့် -

ဦးသန်းဇော်
ကမကထပြုသူ
စိမ်းဥယျာဉ် ကုမ္ပဏီလီမိတက်
SEINN OU YIN COMPANY LIMITED

# Seinn Ou Yin Company Limited

Land Plot No.(2-Kha/2-Ga) Ground Survey Block No.(Tha/3), Pyi Gyi Ta Gon Township,

Mandalay Region, Myanmar.

သို့/-

ဥက္ကဋ္ဌ

မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မန္တလေးတိုင်းဒေသကြီး။

ရက်စွဲ ။ ။ ၂၀၁၉ ခုနှစ်၊ ဇွန်လ (၂၁ )ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း ။

အထက်ပါအကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံတွင် တရားဝင်ဖွဲ့စည်းတည်ထောင်ထားသော " **SEINN OU YIN COMPANY LIMITED** " သည် ကြယ်သုံးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခြင်း ဖြစ်ပါသည်။ထိုသို့လျှောက်ထားရာတွင် ခွင့်ပြုမိန့်ရရှိနိုင်ရေးအတွက် အောက်ပါတို့ကို လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(က) ၎င်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများ ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ကြောင်း နှင့် နိုင်ငံခြားသား ပိုင်ဆိုင်မှုမရှိကြောင်း ဝန်ခံကတိပြုပါသည်။

(ခ) မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်သတ်မှတ်ပြဋ္ဌာန်းထားသော စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) ကျွန်တော်များ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် တည်ဆဲဥပဒေ နည်းဥပဒေစည်းမျဉ်းစည်းကမ်း၊လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(ဃ) မီးဘေးအန္တရာယ်အတွက်လိုအပ်သော ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

# Seinn Ou Yin Company Limited

Land Plot No.(2-Kha/2-Ga) Ground Survey Block No.(Tha/3), Pyi Gyi Ta Gon Township, Mandalay Region, Myanmar.

(င) **" SEINN OU YIN COMPANY LIMITED"** မှရရှိလာသော ဝင်ငွေများကို မြန်မာနိုင်ငံခြားကုန်သွယ်မှုဘဏ်၊ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်နှင့် အခြားနိုင်ငံခြား ဘဏ်များတွင် ငွေစာရင်းများဖွင့်ကာ မပျက်မကွက်ပေးသွင်းမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(စ) **"SEINN OU YIN COMPANY LIMITED"**သည် ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဥပဒေအရဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာနတွင်မှတ်ပုံတင်ထားမည် ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(ဆ) အမျိုးသားယဉ်ကျေးမှုနှင့် ပတ်သက်၍ ထိန်းသိမ်းသွားနိုင်ရေးအတွက် သက်ဆိုင်ရာဌာန/ အဖွဲ့အစည်းအသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့် -

ဦးသန်းဇော်
ကမကထပြုသူ
စိမ်းဥယျာဉ် ကုမ္ပဏီလီမိတက်
SEINN OU YIN COMPANY LIMITED

# Seinn Ou Yin Company Limited

Land Plot No.(2-Kha/2-Ga) Ground Survey Block No.(Tha/3), Pyi Gyi Ta Gon Township, Mandalay Region, Myanmar.

---

သို့/-

ဥက္ကဌ
မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီး။

ရက်စွဲ ။ ။ ၂၀၁၉ ခုနှစ်၊ ဇွန်လ(၂၁)ရက်

အကြောင်းအရာ။ ။ ရာနှုန်းပြည့်(၁၀၀%) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြစ်ကြောင်း ဝန်ခံချက်တင်ပြခြင်း။

ကျွန်တော်များ " **SEINN OU YIN COMPANY LIMITED** " သည် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-(သ/၃)၊ မြေကွက်အမှတ်-(၂-ခ + ၂-ဂ) ဟုခေါ်တွင်သောမြေဧရိယာ (၀. ၄၅၉၁)ဧက ရှိမြေကွက်ပေါ်တွင် ကြယ်သုံးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုနိုင်ပါရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာကို ပေးပို့တင်ပြထားပါသည်။

သို့ပါ၍ ကျွန်တော်များ" **SEINN OU YIN COMPANY LIMITED**" တွင်ပါဝင်သော အစုရှယ်ယာရှင်စာရင်းတွင် မြန်မာနိုင်ငံသားများသာ ရာနှုန်းပြည့် (၁၀၀%)ထည့်ဝင်ရင်းနှီးမြှုပ်နှံ၍ လုပ်ငန်းများဆောင်ရွက်မည်ဖြစ်ပါသည်။ နိုင်ငံခြားသား အစုရှယ်ယာရှင်များ ပါဝင်ဆောင်ရွက်မှု မရှိပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့် -

ဦးသန်းဇော်
ကမကထပြုသူ
စိမ်းဦးယျာဉ် ကုမ္ပဏီလီမိတက်
SEINN OU YIN COMPANY LIMITED

**Seinn Ou Yin Company Limited**

**Land Plot No.(2-Kha/2-Ga) Ground Survey Block No.(Tha/3), Pyi Gyi Ta Gon Township, Mandalay Region, Myanmar.**

---

သို့/-

ဥက္ကဋ္ဌ
မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီး။

ရက်စွဲ ။ ။ ၂၀၁၉ ခုနှစ်၊ ဇွန်လ(၂၁)ရက်

အကြောင်းအရာ။ ။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု အစီအစဉ်တင်ပြခြင်း။

ကျွန်တော်များ **"SEINN OU YIN COMPANY LIMITED"** သည် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊မြေတိုင်းရပ်ကွက်အမှတ်-(သ/၃)၊ မြေကွက်အမှတ်-(၂-ခ + ၂-ဂ) ဟုခေါ်တွင်သော မြေဧရိယာ (၀. ၄၅၉၁)ဧက ရှိမြေကွက်ပေါ်တွင် ကြယ်သုံးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာကို ပေးပို့တင်ပြထားပါသည်။

သို့ပါ၍ ကျွန်တော်များ **"SEINN OU YIN COMPANY LIMITED"** ၏ ကြယ်သုံးပွင့်အဆင့်ရှိနိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရာတွင် လျှပ်စစ် ဓါတ်အားများကို လျှပ်စစ်ဓါတ်အားပေးရေး ဥပဒေများနှင့်အညီ မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည့်အပြင် ကုမ္ပဏီပိုင် (GENERATOR) ဖြင့်လည်း သုံးစွဲမည် ဖြစ်ပါကြောင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့် -

ဦးသန်းဇော်
ကမကထပြုသူ
စိမ်းဥယျာဉ် ကုမ္ပဏီလီမိတက်
SEINN OU YIN COMPANY LIMITED

**စိမ်းဥယျာဉ် ကုမ္ပဏီလီမိတက်**

**SEINN OU YIN COMPANY LIMITED**

**ဆောက်လုပ်မည့် ဟိုတယ်အဆောက်အဦးပုံ**



စိမ်းဥယျာဉ် ကုမ္ပဏီလီမိတက်

**SEINN OU YIN COMPANY LIMITED**

ဟိုတယ်အခန်းပုံများ

## SUPERIOR ROOM



## DEUXE ROOM



SEINN OU YIN COMPANY LIMITED

## FIRST FLOOR PLAN



SEINN OU YIN COMPANY LIMITED

**BACK ELEVATION**



စိမ်းဥယျာဉ် ကုမ္ပဏီလီမိတက်

# SEINN OU YIN COMPANY LIMITED

## LAYOUT PLAN







မြေကွက်အမှတ်– (၂ – ခ) ရှိ ၀.၂၂၉၅ ဧက (၉၂၈.၇၅ စတုရန်းမီတာ) နှင့်

မြေကွက်အမှတ်– (၂ – ဂ) ရှိ ၀.၂၂၉၆ ဧက (၉၂၉.၁၆ စတုရန်းမီတာ)

စိမ်းဥယျာဉ် ကုမ္ပဏီလီမိတက်

**SEINN OU YIN COMPANY LIMITED**

**( Location Map )**



မန္တလေးတိုင်းဒေသကြီး

# မြေကွက်ငှားရမ်းခြင်းသဘောတူကတိစာချုပ်(မူကြမ်း)

"အငှားချထားသူ"

ဦးသန်းဇော်

နှင့်

"ငှားယူသူ"

**SEINN OU YIN COMPANY LIMITED**

၂၀၁၉ ခုနှစ်၊ လ ( )ရက်။

# " မြေကွက်ငှားရမ်းခြင်းသဘောတူကတိစာချုပ်(မူကြမ်း) "

ဤမြေကွက်ငှားရမ်းခြင်းသဘောတူကတိစာချုပ် ( နောင်တွင် "အငှားစာချုပ်"ဟုခေါ်ဆိုရမည်။)ကို မန္တလေးတိုင်းဒေသကြီး၌ ၂၀၁၉ ခုနှစ်၊ လ ( )ရက်နေ့တွင် -

မန္တလေးတိုင်းဒေသကြီး၊ ချမ်းမြသာစည်မြို့နယ်၊ မြို့သစ်(၃)ရပ်ကွက်၊ ငုရွှေဝါလမ်း၊ အမှတ်-(၆၇)တွင် နေထိုင်သူ **ဦးသန်းဇော်** ( ၅/တဆန (နိုင်) ၀၁၂၅၁၄ ) ( ဤမှ နောင်တွင်-**အငှားချထားသူ** ဟုရည်ညွှန်းခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင်စာသားများအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရခွင့်ပြုလွှဲအပ်ခံရသူများပါဝင်သည်ဟုမှတ်ယူရမည်။ )တို့က တစ်ဖက်

**နှင့်**

**စိမ်းဥယျာဉ်ကုမ္ပဏီလီမိတက်** ( **SEINN OU YIN COMPANY LIMITED** ) ( ကုမ္ပဏီမှတ်ပုံတင်လက်မှတ်အမှတ်- **၁၀၉၀၂၁၈၅၇** )၊ အမှတ်-(က/၃/၁၀)၊ မနော်ဟရီလမ်း၊ ၆၈-လမ်းနှင့် ၆၉-လမ်းကြား၊ ချမ်းမြသာစည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။ ( ဤမှနောင်တွင်- **ငှားယူသူ** -ဟု ရည်ညွှန်းခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် စာသားများအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏တရားဝင်ကိုယ်စားလှယ်များဆက်ခံသူများနှင့် ဥပဒေအရခွင့်ပြုလွှဲအပ်ခံရသူများပါဝင်သည်ဟုမှတ်ယူရမည်။) ဤအငှားစာချုပ်အား ချုပ်ဆိုရန် ကိုယ်စားပြုတာဝန်ပေးအပ်ခြင်းခံရသော **ဦးစိုင်းဝင်းထွန်းဦး** ( ၁၃/သနန (နိုင်) ၀၁၉၇၇၁ )က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကိုသတ်မှတ်၍ အငှားစာချုပ်ကိုချုပ်ဆိုကြပါသည်။

**အကြောင်းချင်းရာအားဖြင့်**

(က) ငှားယူသူသည် ဟိုတယ်လုပ်ငန်းကို လုပ်ဆောင်ရန်နှင့် သူ၏စီးပွားရေးလုပ်ငန်းလည်ပတ်ရန်အတွက် မြေကွက်ကိုငှားရမ်းလိုခြင်းဖြစ်သည်။

(ခ) အငှားချထားသူသည် မန္တလေးတိုင်းဒေသကြီး၊ မြန်မာနိုင်ငံတွင် မြေကွက်ကို ပိုင်ဆိုင်ပြီး ငှားယူသူ၏ လုပ်ငန်းလည်ပတ်ရန်အတွက် မြေကွက်ကို ငှားယူသူအား အငှားချထားလိုပါသည်။

(ဂ) ဤသဘောတူစာချုပ်၏ အကြောင်းအရာများအရ အငှားချထားသူက မြေကွက်ကို ငှားယူသူအား ငှားရမ်းလို၍ ငှားယူသူကလည်း မြေကွက်ကို အငှားချထားသူထံမှ ငှားရမ်းလိုပါသည်။

ဤစာချုပ်ကို အောက်ပါအတိုင်း သဘောတူညီကြပါသည်။

၁။ **စာချုပ်၏စကုတ်ဘောင်**

ငှားယူသူသည် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-(သ-၃)၊ မြေကွက်အမှတ်-(၂-ခ)အရ မြေဧရိယာ-(၀. ၂၂၉၅)ဧက၊ ( ၉၂၈. ၇၅၄၄-စတုရန်းမီတာ )ရှိ မြေကွက်နှင့် ယင်းမြေကွက်ပေါ်ရှိ အကျိုးခံစားခွင့်အရပ်ရပ်အားလုံးတို့ကို ငှားရမ်းခြင်း ဖြစ်ပါသည်။ ငှားရမ်းသည့်မြေကွက်ကို နောက်ဆက်တွဲ(က)ဖြင့် ဖော်ပြထားပါသည်။ ( အဆိုပါနောက်ဆက်တွဲ(က)သည် ဤစာချုပ်၏အစိတ်အပိုင်းဖြစ်သည်ဟုမှတ်ယူရမည်။ )

၂။ ငှားရမ်းမှုသက်တမ်းကာလ

၂.၁ ဤစာချုပ်၏ ငှားရမ်းမှုသက်တမ်းကာလမှာ ကနဦး (၃၀)နှစ်ဖြစ်ပါသည်။

၂.၂ ကနဦး ငှားရမ်းကာလ (၃၀)နှစ်ကုန်ဆုံးချိန်တွင် ငှားရမ်းမှုသက်တမ်းကာလကို အငှားချထားသူနှင့် ငှားယူသူတို့နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် ငှားရမ်းမှုအားတစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် နောက်ထပ် ဆက်တိုက်ဖြစ်သော သက်တမ်း(၂)ကြိမ်တိုးမြှင့်နိုင်သည်။

၃။ ငှားရမ်းခ

၃.၁ ကနဦး ငှားရမ်းကာလ (၃၀)နှစ်အတွက် ငှားရမ်းခမှာ (၁)လလျှင် ငွေကျပ်- ၃၄၄,၂၅၀/- ( ကျပ်သုံးသိန်းလေးသောင်းလေးထောင့်နှစ်ရာငါးဆယ်တိတိ )နှုန်းဖြစ်ပြီး၊ (၁)နှစ်အတွက် စုစုပေါင်း ငှားရမ်းခမှာ ငွေကျပ်- ၄,၁၃၁,၀၀၀/- ( ကျပ်လေးဆယ့်တစ်သိန်းသုံးသောင်းတစ်ထောင်တိတိ ) ဖြစ်ပါသည်။

၃.၂ ကနဦး ငှားရမ်းကာလ (၃၀)နှစ်ကုန်ဆုံးချိန်တွင် အငှားချထားသူအနေဖြင့် ဆက်လက်ငှားရမ်းလိုခြင်း ရှိ/မရှိကို ငှားယူသူနှင့်ညှိနှိုင်းဆွေးနွေးနိုင်သည်။ အကယ်၍ ငှားယူသူမှ ဆက်လက်မငှားလိုပါက အငှားချထားသူအနေဖြင့် ကနဦး ငှားရမ်းကာလ (၃၀)နှစ်သက်တမ်းကုန်ဆုံးသည့်နေ့တွင် ဤငှားရမ်းမှုသဘောတူစာချုပ်ကို ရပ်စဲနိုင်သည်။

၄။ ငှားရမ်းခပေးချေခြင်း

၄.၁ အထက်အပိုဒ်-၃.၁အရ ငှားရမ်းကာလ (၃၀)နှစ်အတွက် ငှားရမ်းခကို ငှားယူသူသည် နှစ်စဉ် ငှားရမ်းခအဖြစ် (၁)နှစ်လျှင် ငွေကျပ်- ၄,၁၃၁,၀၀၀/- ( ကျပ်လေးဆယ့်တစ်သိန်းသုံးသောင်း တစ်ထောင်တိတိ )ကို သက်ဆိုင်ရာငှားရမ်းခြင်းကာလမတိုင်မီ (၁)လအလိုတွင် အငှားချထားသူသို့ ပေးချေရမည်။

၄.၂ ငှားယူသူသည် ငှားရမ်းမှုသက်တမ်းမကုန်ဆုံးမီ ခိုင်လုံသောအကြောင်းပြချက် တစ်စုံတစ်ရာမရှိဘဲ ငှားရမ်းခြင်းကို ရပ်စဲသည့်အခြေအနေတွင် ပေးသွင်းပြီးဖြစ်သော ငှားရမ်းခများကို ပြန်လည် အမ်းပေးမည်မဟုတ်ပါ။

၅။ ငှားရမ်းခြင်းအကျိုးသက်ရောက်သည့်ရက်စွဲ

၅.၁ ဤအငှားစာချုပ်၏ ငှားရမ်းခြင်းအကျိုးသက်ရောက်သည့် ရက်စွဲမှာ အငှားချထားသူနှင့် ငှားယူသူတို့ ဤအငှားစာချုပ်ကို လက်မှတ်ထိုးသည့်နေ့ဖြစ်စေရမည်။

၅.၂ ငှားရမ်းခြင်းကာလကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရရှိသည့်နေ့မှ စတင် ရေတွက်ရမည်။

၆။ အငှားချထားသူ၏ အခွင့်အရေးနှင့် တာဝန်များ

ငှားရမ်းမှုသက်တမ်းအတွင်း အငှားချထားသူက ငှားယူသူနှင့် အောက်ပါအတိုင်း ကတိပဋိညာဉ် ပြုဆိုပါသည်။

၆.၁ ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် အငှားချထားသူက ငှားယူသူထံသို့ အငှားချထားသည့်မြေကွက်ကို လက်ရောက်လွှဲအပ်ပေးမည်ဖြစ်ပါသည်။

၆.၂ အငှားစာချုပ်သက်တမ်းအတွင်း အငှားချထားသူကဖြစ်စေ၊ အငှားချထားသူ၏ ကိုယ်စား တစ်စုံတစ်ဦးကဖြစ်စေ လုပ်ငန်းတွင် မည်သည့်နှောင့်ယှက်ခြင်း၊ ဟန့်တားခြင်းမျှမရှိစေရန် အငှားချထားသူက တာဝန်ယူပါသည်။

၆.၃ ငှားယူသူမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံ ခွင့်ပြုမိန့်လျှောက်ထားခြင်းအတွက် ငှားယူသူမှ လိုအပ်၍ တောင်းဆိုလာသည့်အခါ အငှားချထားသူမှ သက်ဆိုင်ရာ အာဏာပိုင်အဖွဲ့အစည်းများနှင့် ပူးပေါင်း ဆောင်ရွက်မှုနှင့် ကူညီထောက်ပံ့မှုကို အပြည့်အဝပေးရမည်။

၆.၄ အငှားချထားသူသည် ငှားရမ်းသည့်မြေကွက်အတွက် မြေခွန်နှင့် ငှားရမ်းသည့်ကာလအတွင်း ဝင်ငွေခွန်ကို ပေးဆောင်ရမည်။

## ၇။ ငှားယူသူ၏အခွင့်အရေးနှင့် တာဝန်များ

အငှားစာချုပ်သက်တမ်းအတွင်း ငှားယူသူသည် အငှားချထားသူနှင့် အောက်ပါတို့ကို ပဋိညာဉ် ပြုဆိုပါသည်။

၇.၁ ငှားရမ်းသည့်မြေကွက်ကို “ ဟိုတယ်လုပ်ငန်း ” အတွက်သာ အသုံးပြုရန်ဖြစ်ကြောင်းနှင့် တည်ဆဲဥပဒေများနှင့်အညီ သက်ဆိုင်ရာ၏ ခွင့်ပြုချက် လုပ်ငန်းလိုင်စင်များ ရယူပြီးဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။ အကယ်၍အခြားစီးပွားရေးလုပ်ငန်း ပြောင်းလဲလုပ်ကိုင်လိုပါက အငှားချထားသူထံမှစာဖြင့် ရေးသားထားသောခွင့်ပြုချက်ရယူပြီးမှသာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၇.၂ အထက်အပိုဒ်-(၄)အရ ငှားရမ်းခများကို ပေးချေရန် သတ်မှတ်ထားသောကာလအတွင်း မှန်မှန် ပေးချေပါမည်ဟု ငှားယူသူက ဝန်ခံကတိပြုပါသည်။

၇.၃ ငှားရမ်းမှုသက်တမ်းကာလအတွင်း အငှားချထားသည့် မြေကွက်တစ်ခုလုံးကိုဖြစ်စေ၊ အစိတ်အပိုင်းကို ဖြစ်စေ၊အခြားသူအားထပ်ဆင့်အငှားချထားခြင်းဖြစ်စေ၊ပေါင်နှံခြင်း၊ အာမခံတင်ခြင်းဖြစ်စေ၊ အခြား တစ်နည်းနည်းလွှဲပြောင်းခြင်းဖြစ်စေပြုလုပ်မည်မဟုတ်ကြောင်း ဝန်ခံကတိပြုပါသည်။

၇.၄ ငှားရမ်းထားသည့်ကာလအတွင်း ငှားယူသူ၏ လုပ်ငန်းလိုအပ်ချက်အရ ငှားရမ်းထားသည့် မြေကွက် အတွင်း အဆောက်အဦဆောက်လုပ်ခြင်း၊ ပြုပြင်မွမ်းမံခြင်းများကို ငှားယူသူအနေဖြင့် မိမိအသုံးပြု လိုသည့်အတိုင်း ပြင်ဆင်ခွင့်ရှိသော်လည်း ငှားရမ်းထားသည့် မြေကွက်ကို ပြန်လည် အပ်နှံသည့်အခါ ကောင်းမွန်သည့်အနေအထားအတိုင်း ပြန်လည်အပ်နှံပေးရမည်ဖြစ်ပါသည်။

၇.၅ အငှားချထားသောကာလအတွင်း အငှားချထားသောမြေကွက်ကို ငှားယူသူ၏ကုန်ကျစရိတ်ဖြင့် ကောင်းမွန်သော အနေအထားအတိုင်း ထိန်းသိမ်းထားမည်ဖြစ်သည်။ ငှားရမ်းကာလတွင် အငှားချ ထားသောမြေကွက်ပေါ်တွင် ဖြစ်ပေါ်လာသော ထိခိုက်မှု၊ ဆုံးရှုံးမှု (သဘာဝအလျောက် ယိုယွင်း ပျက်စီးမှုမှအပ)ကို ငှားယူသူ၏ ကုန်ကျစရိတ်ဖြင့် နဂိုမူလအခြေအနေသို့ ပြန်ရောက်အောင် ပြင်ဆင်ပေးမည် ဖြစ်သည်။

၇.၆ ငှားရမ်းမှုအတွက် ပေးဆောင်ရမည့် တံဆိပ်ခေါင်းခွန်၊ ကုန်သွယ်ခွန်နှင့် ပစ္စည်းခွန်ကို ငှားယူသူမှ ပေးဆောင်ရမည်။

၇.၇ ငှားရမ်းမှုကာလအတွင်း ငှားယူသူ သုံးစွဲသော မီတာခွန်၊ စည်ပင်ခွန်၊ ရေခွန်၊ အမှိုက်ခွန်၊ လုပ်ငန်းခွန်နှင့် ငှားယူသူ၏လုပ်ငန်းကို အကြောင်းပြု၍ ပေးဆောင်ရန်ရှိသော အခွန်အခများ အားလုံးကို သတ်မှတ် ထားသည့်ကာလအတွင်း ငှားယူသူမှပေးဆောင်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၇.၈ ငှားရမ်းမှုကာလအတွင်းနှင့် ငှားရမ်းခြင်းကာလပြီးဆုံးသည့်နောက် ငှားယူသူနှင့် သက်ဆိုင်သော ဝန်ထမ်းများ၏ လုပ်အားခ၊ လစာ၊ အကျိုးခံစားခွင့်နှင့် လျော်ကြေးပေးခြင်းတို့သည် ငှားယူသူနှင့်သာ သက်ဆိုင်ပါကြောင်း ငှားယူသူက ဝန်ခံကတိပြုပါသည်။

၇.၉ ငှားယူသူ၏လုပ်ငန်းကိုအကြောင်းပြု၍လည်းကောင်း၊ငှားယူသူ၏ဝန်ထမ်းများကို အကြောင်းပြု၍လည်းကောင်း၊ ပတ်ဝန်းကျင်အားစိတ်အနှောက်အယှက်မဖြစ်စေရန်တာဝန်ယူကြောင်း ငှားယူသူမှဝန်ခံကတိပြုပါသည်။

၇.၁၀ ငှားယူသူသည် ငှားရမ်းသော မြေကွက်နှင့်မြေကွက်ပေါ်ရှိအဆောက်အဦအတွင်း ဥပဒေအရ တားမြစ်ထားသော လုပ်ငန်းလုပ်ကိုင်ခြင်း၊ ပစ္စည်းများထားရှိခြင်း၊ သိုလှောင်ရောင်းချခြင်းမပြုပါဟု ဝန်ခံကတိပြုပါသည်။ အကယ်၍ ပြုလုပ်ခဲ့ပါက ငှားယူသူက တာဝန်ယူဖြေရှင်းဆောင်ရွက်ရမည်ကို သိရှိဝန်ခံကတိပြုပါသည်။

၇.၁၁ အငှားချထားထားသည့် မြေကွက်အနီးပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် လေ၊ရေ၊မြေ ညစ်ညမ်းမှုနှင့် ပတ်ဝန်းကျင် ထိခိုက်မှုထိန်းချုပ်နိုင်ရန်အတွက် ငှားယူသူတွင် တာဝန်ရှိကြောင်း ဝန်ခံကတိပြုပါသည်။

၇.၁၂ ငှားရမ်းကာလကျော်လွန်ပြီးသည့်နောက်တွင် ငှားယူသူသည် အငှားချထားသောမြေကွက်ပေါ်တွင် တည်ဆောက်ထားသော မည်သည့်အဆောက်အဦနှင့်ပုံစံကိုမဆို အငှားချထားသူသို့ လွှဲပြောင်းပေးမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

**၈။ စိုးမိုးဥပဒေနှင့် စီရင်ပိုင်ခွင့်**

ဤစာချုပ်ကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ ဥပဒေများနှင့်အညီ အဓိပ္ပာယ်ဖွင့်ဆို၍ စိုးမိုးစေပြီး မြန်မာနိုင်ငံ၏ စီရင်ပိုင်ခွင့်ရှိသည့် တရားရုံးတော်များနှင့် အယူခံကြားနာခွင့်ရှိသည့် တရားရုံးတော်များကို နှစ်ဖက်ပါတီများက လိုက်နာကြပါသည်။

**၉။ လွှဲအပ်ခြင်းနှင့်ဆက်ခံသူများ**

ဤသဘောတူစာချုပ် ချုပ်ဆိုသည့် နှစ်ဖက်ပါတီများအပေါ်တွင်သာမက ယင်းတို့၏ လွှဲအပ်ခြင်းများ (သို့) ဆက်ခံသူများအပေါ်တွင်ပါ စည်းနှောင်မှုရှိစေရမည်။

**၁၀။ စာချုပ်ကို ပြန်လည်ညှိနှိုင်းခြင်း**

၁၀.၁ ဤစာချုပ်တွင် ကြိုတင်မျှော်မှန်းမထားသည့် အခြေအနေများပေါ်ပေါက်ခြင်းကြောင့် အခြေအနေတစ်ရပ်ဖြစ်ပေါ်လာပြီး ဤစာချုပ်ပြင်ဆင်ရန် လိုအပ်လာသည့်အခါ ယင်းပြင်ဆင်ချက် ပြုလုပ်ရန် ရည်ရွယ်ချက်ဖြင့် လိုအပ်သည့်ညှိနှိုင်းမှုများကို ပါတီများက ပြုလုပ်ကြရမည်။

၁၀.၂ ယင်းပြင်ဆင်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်နှင့်အညီ ဖြစ်စေရမည်။

**၁၁။ ခုံသမာဓိအဖွဲ့ဖြင့် ဖြေရှင်းခြင်း**

ဤစာချုပ်နှင့်ပတ်သက်၍ ပါတီများအကြား ပေါ်ပေါက်သည့်အငြင်းပွားမှုကို ချစ်ကြည်ရင်းနှီးစွာဖြေရှင်းနိုင်ခြင်းမရှိလျှင် အငှားချထားသူနှင့် ငှားယူသူတို့က ခန့်ထားသည့် ခုံသမာဓိ လူကြီး (၁) ဦးပါဝင်သော ခုံသမာဓိ လူကြီး (၂) ဦးဖြင့် အငြင်းပွားမှုကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ခုံသမာဓိဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးများက သဘောတူညီချက် မရရှိနိုင်လျှင် ခုံလူကြီးများက ခန့်အပ် သည့် ဒိုင်လူကြီးသို့ အငြင်းပွားမှုကို လွှဲအပ်ရမည်။ ခုံလူကြီးများ၏ ဆုံးဖြတ်ချက်သည် အပြီးပြတ်ဖြစ်၍ နှစ်ဖက်ပါတီများအပေါ် စည်းနှောင်စေရမည်။ ခုံသမာဓိ ဖြင့် ဖြေရှင်းခြင်းသည် ၂၀၁၆ ခုနှစ် ခုံသမာဓိဥပဒေနှင့်အညီ ဖြစ်စေရမည်။ ခုံသမာဓိအဖွဲ့၏ ဘာသာစကားသည် အင်္ဂလိပ်ဘာသာဖြင့် ဖြစ်ရမည်။ ခုံသမာဓိအဖွဲ့စရိတ်ကို ရှုံးသည့်အဖွဲ့က ကျခံစေရမည်။

## ၁၂။ ရပ်စဲခြင်း

၁၂. ၁ အကြောင်းအရာ(၂)တွင် ဖော်ပြထားသည့် စာချုပ်သက်တမ်း ကျော်လွန်သွားလျှင် နှစ်ဖက်စာချုပ်ဝင်များကြား သဘောတူထားသော ရေးသားထားချက်များ မရှိပါက ဤသဘောတူစာချုပ်ကို ရပ်စဲနိုင်သည်။

၁၂. ၂ အောက်ပါဖြစ်ရပ်များ ဖြစ်ပွားမှုပေါ်မူတည်၍ ဤသဘောတူစာချုပ်ကို ရပ်စဲနိုင်သည်။

(က) ဤသဘောတူစာချုပ်အောက်ရှိ တာဝန်များကို ဆောင်ရွက်ရန် ပျက်ကွက်သော ပါတီအား အခြားပါတီ၏ စာဖြင့်ရေးသားထားသည့် ရက်ပေါင်း(၆၀)နို့တစ်ကာလအတွင်း အဆိုပါ ပျက်ကွက်မှုကို မဆောင်ရွက်ခဲ့လျှင် ဤအငှားစာချုပ်ကို ရပ်စဲနိုင်သည်။

(ခ) ဤသဘောတူစာချုပ်တွင် ကိုယ်စားပြုမှုများ၊ အာမခံထားမှုများကို အငှားချထားသူက မမှန်မကန်လုပ်ဆောင်ထားသည်ကို တွေ့ရှိခဲ့လျှင် အငှားချထားသူအား နို့တစ်စာပေးပို့၍ ငှားယူသူက ဤအငှားစာချုပ်ကို ရပ်စဲနိုင်သည်။

(ဂ) ညှိနှိုင်းမှု သဘောတူစာချုပ် သို့မဟုတ် အငှားချထားသူ၏ အိမ်နှင့်မြေ အသုံးပြုနိုင်ခွင့်ကို မြန်မာနိုင်ငံ၏ သက်ဆိုင်ရာအာဏာပိုင်က ရပ်စဲ သို့မဟုတ် ရုတ်သိမ်းခဲ့လျှင် အငှားချထားသူအား နို့တစ်စာပေးပို့၍ ငှားယူသူက ဤအငှားစာချုပ်ကို ရပ်စဲနိုင်သည်။

၁၂. ၃ ဤသဘောတူစာချုပ်၏ ဥပဒေ သို့မဟုတ် အကြောင်းအရာ တရပ်ရပ်ကို အစိုးရအာဏာပိုင် တရပ်ရပ်က ပြောင်းလဲ သို့မဟုတ် ပြင်ဆင်လိုခြင်းသည် အဆိုပါ စာချုပ်ဝင်၏ ပိုင်ဆိုင်မှု အားလုံး သို့မဟုတ် တစိတ်တပိုင်းကို အကန့်အသတ် မရှိဘဲ သိမ်းဆည်းနိုင်ခြင်း အပါအဝင် စာချုပ်ဝင်၏ အကျိုးအမြတ်ကို ဆိုးဆိုးရွားရွား ထိခိုက်စေနိုင်ပါက စာချုပ်ဝင် တစ်ဖက်ဖက်က ဤသဘောတူစာချုပ်ကို ရပ်စဲနိုင်သည်။

## ၁၃။ ဖို့စ်မေဂျာ

၁၃. ၁ တစ်ဖက်ဖက်ပါတီသည် ဤအငှားစာချုပ်အရ ဖို့စ်မေဂျာကြောင့်အားလုံးဖြစ်စေ၊ တစ်စိတ်တစ်ပိုင်းဖြစ်စေ၊ တာဝန်ဆောင်ရွက်ရန်နှင့် အခြားပါတီက ဆောင်ရွက်သည်ကို လက်ခံရန် ယာယီအားဖြင့် မဖြစ်နိုင်လျှင် ထိခိုက်သည့်ပါတီသည် မိမိအားထားသည့် ဖြစ်ရပ်အကြောင်းအရာကို အပြည့်အစုံရေးသား၍ (၁၄)ရက်အတွင်း အခြားပါတီသို့ နို့တစ်စာပေးရမည်။ သို့ရာတွင် သင့်တော်သည်ထက်ပိုမိုကြာရှည်ခြင်းမရှိစေရ။ ယင်းအကြောင်းတရားကို ဖြစ်နိုင်သမျှ မြန်စွာဖယ်ရှားရန်ကြိုးပမ်းရမည်။ ဖို့စ်မေဂျာဖြစ်ပွားသည့် နှောင့်နှေးမှုအတွက် မည်သည့် ပါတီကမျှ တာဝန်မရှိစေရ။

၁၃. ၂ ဖို့စ်မေဂျာဟုဆိုရာတွင် သဘာဝဘေး အန္တရာယ်ကျရောက်မှု၊ အစိုးရကန့်သတ်ချက်၊ သပိတ်မှောက်ခြင်း၊ စက်မှုဆိုင်ရာအရေးအခင်းဖြစ်ခြင်း၊ စစ်ဖြစ်ခြင်း၊ ပိတ်ဆို့ခြင်း၊ ပုန်ကန်ထကြွခြင်း၊ ရှုန်းရင်းဆန်ခတ်ဖြစ်ခြင်း၊ ကူးစက်ရောဂါဖြစ်ခြင်း၊ အရပ်ဖက်ဆူပူထကြွခြင်း၊ ပေါက်ကွဲခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ လျှော်လှုပ်ခြင်း၊ မုန်တိုင်းတိုက်ခြင်းနှင့် မည်သည့်ပါတီကမျှ ထိန်းချုပ်နိုင်ခြင်းမရှိဘဲ ဝီရိယစိုက်ထုတ်ကြိုးပမ်းစေကာမူ တွန်းလှန်ကျော်လွှားနိုင်ခြင်းမရှိသည့် အခြားအလားတူ အခြေအနေဖြစ်ရပ်များ ပါဝင်ပါသည်။

၁၄။ **လွှဲအပ်ခြင်း**
ငှားယူသူသည် အငှားချထားသူ သဘောတူသည့် စည်းကမ်းချက် သဘောတူညီချက်များဖြင့် မြန်မာနိုင်ငံတည်ဆဲဥပဒေများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ဖြင့် ဟိုတယ်လုပ်ငန်းလုပ်ကိုင်ရာတွင် ၎င်း၏ အကျိုးစီးပွားကို လွှဲအပ်လွှဲပြောင်းခွင့်ရှိပါသည်။

၁၅။ **ဓာတ်သတ္တုရင်းမြစ်များနှင့် ရတနာသိုက်များ**
၁၅.၁ ဤစာချုပ်သက်တမ်းအတွင်း မမျှော်လင့်ဘဲတွေ့ရှိရသည့် မြေပေါ်မြေအောက်သတ္တုသိုက်များ၊ ရတနာသိုက်များ၊ ကျောက်မျက်ရတနာနှင့် အခြားအရင်းအမြစ်များသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ ပိုင်ဆိုင်ခွင့်သာဖြစ်၍ အထက်ပါရတနာသိုက်တို့ကို ပြည်ထောင်စုသမ္မတမြန်မာ နိုင်ငံတော်အစိုးရက လွတ်လပ်စွာတူးဖော်ခွင့်ရှိပါသည်။
၁၅.၂ ငှားယူသူသည် အဆိုပါ တွေ့ရှိမှုကိုသက်ဆိုင်ရာ စီမံခန့်ခွဲရေးရုံး ဌာနမှူးနှင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ၂၄နာရီအတွင်း ချက်ချင်းအကြောင်းကြားရမည်။

၁၆။ **ပဋိညာဉ်၏ ပူးတွဲပါ အစိတ်အပိုင်း**
ဤအငှားစာချုပ်သည် နောက်ဆက်တွဲများနှင့်အတူ ပဋိညာဉ်၏ ပူးတွဲပါ အစိတ်အပိုင်းအဖြစ် ရည်ရွယ်ချက်အားလုံးအတွက် ဖွဲ့စည်းပါဝင်စေရပါမည်။

၁၇။ **နို့တစ်စာ**
ဤစာချုပ်အရ ပေးအပ်ရန်လိုအပ်သည့် နို့တစ်စာနှင့် ဆက်သွယ်စာကို အင်္ဂလိပ်ဘာသာစကားဖြင့် ရေးသား၍ ကြိုတင်ငွေပေးသွင်းသည့် မှတ်ပုံတင်စာတိုက်ဖြင့်ဖြစ်စေ (ပင်လယ်ရပ်ခြားဖြစ်လျှင် လေကြောင်းစာဖြင့်) တဲလက်စ် (သို့) ဖက်စ် (သို့) နိုင်ငံတကာစာပို့စနစ်ဖြင့်ဖြစ်စေ အောက်တွင် ဖော်ပြထားသည့်လိပ်စာသို့ဖြစ်စေ ဤကလော့စ်အရ အခြားတစ်ဘက်သို့ သက်ဆိုင်သည့်ဘက်က ပေးအပ်ထားသည့် လိပ်စာသို့ဖြစ်စေ ပေးပို့ရပါမည်။

အငှားချထားသူနှင့် ငှားယူသူတို့၏ လိပ်စာများမှာ အောက်ပါအတိုင်းဖြစ်သည်။

| | | |
|---|---|---|
| **ပိုင်ရှင်/အငှားချထားသူ** | အမည် - | **ဦးသန်းဇော်** |
| | လိပ်စာ | အမှတ်-(၆၇)၊ ငုရွှေဝါလမ်း၊ မြို့သစ်(၃)ရပ်ကွက်၊ ချမ်းမြသာစည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။ |
| **ငှားယူသူ** | အမည် - | **စိမ်းဥယျာဉ်ကုမ္ပဏီလီမိတက်**<br>**SEINN OU YIN COMPANY LIMITED** |
| | လိပ်စာ | အမှတ်-(က/၃/၁၀)၊ မနော်ဟရီလမ်း၊ ၆၈-လမ်းနှင့်၆၉-လမ်းကြား၊ ချမ်းမြသာစည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။ |

၁၈။ **ဘာသာစကား**
ဤစာချုပ်ကို မြန်မာဘာသာစကားဖြင့်ရေးသား၍ မြန်မာဥပဒေများနှင့်အညီ လွှမ်းမိုးစေရမည်။ ဤသဘောတူစာချုပ်ကို မြန်မာဘာသာမှလွဲ၍ အခြားဘာသာသို့ ဘာသာပြန်ဆိုထားခြင်းများရှိပါက ထိုဘာသာပြန်ဆိုမှုသည် ကိုးကားရန်အတွက်သာဖြစ်သည်။

**၁၉။ ငှားရမ်းထားသောပိုင်ဆိုင်မှု ပြန်လည်လွှဲပြောင်းခြင်း**

၁၉. ၁ ငှားရမ်းကာလ ကုန်ဆုံးချိန်တွင် အငှားချထားသူထံသို့ ငှားရမ်းသည့်မြေကွက် ( ငှားယူသူမှ ဆောက်လုပ်ထားသော အဆောက်အအုံနှင့် တည်ဆောက်ပုံများအပါအဝင် )အား ငှားယူသူမှ ကောင်းမွန်သောအခြေအနေအတိုင်း လွှဲပြောင်းပေးအပ်ရမည်ဖြစ်ပြီး မရွှေ့ပြောင်းနိုင်သော ပစ္စည်းအားလုံးကို "တည်ရှိဆဲ" အခြေခံအတိုင်း ချန်ထားရပ်မည်။

၁၉. ၂ ငှားယူသူသည် ဤစာချုပ်အရ ထမ်းဆောင်ရမည်ဖြစ်သော ကုန်ကျမှုများအားလုံးကို အပြည့်အဝ အခြေကျစေရမည်ဖြစ်ပြီး အငှားချထားသူကိုပါ ထိုကဲ့သို့အခြေကျမှုအား အထောက်အပံ့ပေးသည့် စာရွက်စာတမ်းများကိုပေးအပ်ရမည်။

သက်သေအရာတည်စေသောငှာ အထက်ဖော်ပြပါ ၂၀၁၉ ခုနှစ်၊ လ ( )ရက်နေ့တွင် အငှားချထားသူနှင့် ငှားယူသူတို့က လက်မှတ်ရေးထိုး၍ အသိအမှတ်ပြုတံဆိပ်ရိုက်နှိပ်ကြပါသည်။

| **မြေကွက်ပိုင်ရှင်**<br>( အငှားချထားသူ ) | **မြေကွက်ငှားယူသူ**<br>( ငှားယူသူ ) |
|---|---|
| (signature)<br>-----------------------------------<br>**ဦးသန်းဇော်**<br>၅/တဆန (နိုင်) ၀၁၂၅၁၄ | (signature) 2.6.19<br>-----------------------------------<br>ကိုယ်စားပြုသူ- **ဦးစိုင်းဝင်းထွန်းဦး**<br>၁၃/သနန (နိုင်) ၀၁၉၇၇၁<br>**SEINN OU YIN CO., LTD** |

**အသိသက်သေများ**

| | |
|---|---|
| ၁။----------------------------------- | ၂။----------------------------------- |
| အမည်----------------------------- | အမည်----------------------------- |
| မှတ်ပုံတင်-------------------------- | မှတ်ပုံတင်-------------------------- |
| နေရပ်------------------------------ | နေရပ်------------------------------ |
| ----------------------------------- | ----------------------------------- |

012195

မြေငှားရမ်းစာချုပ်

၁၃ ဇူလိုင် ၂၃

မြေငှားစာချုပ်အမှတ် ၀၁၂၁၉၇/၂၀၁၃-၂၀၁၄ ၀၃၄၄၇/၂၀၁၃-၂၀၁၄

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ၊ မြို့ပြမြေယာ စီမံခန့်ခွဲမှုဌာန (နောက်တွင် **"အငှားချထားသူ"** ဟု ရည်ညွှန်းသည်။ အငှားချထားသူ ဆိုသည့် စကားရပ်တွင် မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ၊ မြို့ပြမြေယာ စီမံခန့်ခွဲမှုဌာန ဆက်ခံသူများ အခွင့်ရ လွှဲအပ်သူများလည်း ပါဝင်သည်။) နှင့် မန္တလေး မြို့နေ၊ ဦး ကျော်ဌေး ၏ သား/သမီးဖြစ်သော ဦး/ဒေါ် သန့်ဝေ နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၉/တဆန(နိုင်)၀၁၂၉၁၄ (နောက်တွင် **"အငှားစာချုပ်သူ"** ဟု ရည်ညွှန်းသည်။) တို့ ၁၃............ ခုနှစ်၊ .............................. လဆန်း/လပြည့်ကျော် ............ ရက်နေ့ ၂၀၁၃ ခုနှစ်၊ ဇူလိုင် လ ၂၃ ရက်နေ့တွင် အောက်ပါအတိုင်း မြေငှားစာချုပ် ချုပ်ဆိုကြသည်

အငှားစာချုပ်ရသူက နောက်တွင် သတ်မှတ်ထားသည့်မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့်လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကို ထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်-ထွက်သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွ အငှားချထားသူက အငှားစာချုပ်ရသူအား ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ဓါတ်သတ္တုပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကျောက်မိုင်းစသည်တို့သည် ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေ တူးဖော်သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နောက်ယှက်ပျက်စီးစေခဲ့လျှင် အငှားစာချုပ်ရသူအား သင့်လျော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်းအက်ဥပဒေ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ၊ မြို့ပြမြေယာ စီမံခန့်ခွဲမှုဌာန၊ ဌာနမှူးက ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ် ချုပ်ဆိုသည့် ၃၀-၆-၂၀၈၂ နေ့မှစ၍ နှစ်ပေါင်း ၄၃၀ ၂ ကာလအပိုင်းအခြားအတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါစာချုပ်ကို အငှားချထားသည်။

နှစ်ပေါင်း(~~၆၀~~)(၇၀) မြေငှားစာချုပ်ကာလအပိုင်းအခြားတွင်၊ ၂၀၂၂ ခုနှစ် ဇွန် လ ၂၈ ရက်နေ့၌ ကုန်ဆုံးသည့် ပထမ(၁၅)နှစ်အတွင်းတွင် သုံးလပတ်အတွက် မြေငှားရမ်းခငွေ ကျပ် ၄၁၆၆၇/- ပြား (ကျပ် လေးသောင်း[illegible] တိတိ)ကို ဇန်နဝါရီလ၊ ဧပြီလ၊ ဇူလိုင်လနှင့် အောက်တိုဘာလများ၏ လဆန်း(၁)ရက်နေ့များတွင် ကြိုတင်ပေးဆောင်ရမည်။ အဆိုပါ နှစ်ပေါင်း(~~၆၀~~)(၇၀) ကာလအပိုင်းအခြား၏ ဒုတိယ၊ ~~တတိယနှင့် စတုတ္ထ~~ (၁၅)နှစ်စီအတွက် အပိုဒ်(၃)တွင် ပြဋ္ဌာန်းထားသည့် နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ် ရသူက ပေးဆောင်ရမည်။

အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက်ပြုလုပ်သည်။
၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက်ပြုလုပ်သည် သတ်မှတ်သည့်နည်းလမ်း

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်သည့်နေ့ရက်တွင် သတ်မှတ်သည့်နည်းလမ်း
အတိုင်း မြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော
အဆောက်အဦပေါ်၌လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း၊ အဆိုပါ နှစ်ပေါင်း(~~၆၀~~)(၃၀) ကာလ
အပိုင်းအခြားအတွင်း စည်းကြပ်ဆဲ၊ စည်းကြပ်လတ္တံ့ဖြစ်သော အခွန်အတုပ်အားလုံးကို ပေးဆောင်ရမည်။

(ခ) ဤစာချုပ် ချုပ်ဆိုသည့်နေ့မှ (၆)လအတွင်း စတင်ဆောက်လုပ်၍ အဆိုပါမြေကွက်ပေါ်တွင်
ကောင်းမွန်ခိုင်ခံ့သောလူနေအိမ်ကို မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊ အင်ဂျင်နီယာဌာန (အဆောက်အဦ)
မှ သတ်မှတ်ခွင့်ပြုသည့် ပုံစံအတိုင်း စည်ပင်သာယာတရားဥပဒေနှင့်အညီ ပြီးစီးအောင် ဆောက်လုပ်ရန်နှင့်
ထိုလူနေအိမ် စသည်တို့ကို အဆိုပါ နှစ်ပေါင်း(~~၆၀~~)(၃၀)ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက် တည်ရှိသောရပ်ကွက်၌ သက်ဆိုင်ရာ ဒေသန္တရအာဏာပိုင်များက
မိလ္လာပိုက်များနှင့် ရေပိုက်များချထားလျှင် ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့် တရားဥပဒေနှင့်အညီ အဆိုပါ
မြေကွက်ပေါ် ဆောက်လုပ်ထားသော အဆောက်အဦများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) အဆိုပါမြေကွက်ပေါ်၌ အဆောက်အဦများ တည်ဆောက်ရာတွင် ဒေသန္တရအာဏာပိုင်
(သို့မဟုတ်) မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊ အင်ဂျင်နီယာဌာန (အဆောက်အဦ)၏ ကြိုတင်ခွင့်ပြုချက်
ရယူရန်။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ နှစ်ပေါင်း~~ခြောက်ဆယ်~~ သုံးဆယ် ကာလ
အပိုင်းအခြားအတွင်း အဆိုပါမြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက်မှတပါး အခြားကိစ္စအတွက် အသုံး
မပြုရန်နှင့် အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်သည့်လူနေအိမ်ကို၊ လူနေအိမ်အဖြစ်မှတပါး အခြားနည်း အသုံး
မပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိပဲ စာချုပ်ပါမြေကိုခွဲခြမ်းခြင်း
မပြုရသည့်အပြင် ၎င်းမြေ၏ တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများ
မပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့် စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါ
မြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အဦသို့ဖြစ်စေ၊ နှစ်ပေါင်း~~ခြောက်ဆယ်(၆၀)~~ သုံးဆယ် (၃၀) ကာလအပိုင်း
အခြားတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၊ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊
မြို့ပြမြေယာစီမံခန့်ခွဲမှုဌာန၊ ဌာနမှူး၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ပိုင်းသင့်လျော်သည့်အချိန်များတွင်
ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်း(~~၆၀~~)(၃၀) အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါ
မြေကွက်တည်ရှိသည့် အဆောက်အဦနှင့် ယင်းအဆောက်အဦတွင် ပါဝင်တည်ဆောက်ထားသော ပစ္စည်းများ
မပါဝင်စေပဲ အဆိုပါ မြေကွက်ကို အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်၊ သို့ရာတွင်
အငှားချထားသူက အပိုဒ်(၂)အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရပ်စဲလျှင် အဆိုပါ
မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသည့် အဆောက်အဦနှင့် ယင်း၏အဆောက်အဦတွင် ပါဝင်
တည်ဆောက်ထားသော ပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာပေးအပ်ရန်။

## <u>အပိုပဋိညာဉ်ခံချက်များ</u>

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၂၀... ခုနှစ် အတွင်းအတွင်ဖြစ်စေ၊ ထိုနောက် အချိန်ကာလတွင်ဖြစ်စေ၊ ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန်ဖြစ်သည်။

၂။ အဆိုပါမြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို (သို့တည်းမဟုတ်) ၎င်း၏အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယ လဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပြေကျန်ရှိနေလျှင်၊ သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် ပျက်ကွက်လျှင်၊ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ မြို့ပြမြေယာစီမံခန့်ခွဲမှုဌာန ဌာနမှူးသည် အဆိုပါမြေငှားခကိုရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံချက် ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကို ဖြစ်စေ၊ အဆိုပါမြေကွက် ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ၊ စွန့်လွှတ်ခဲ့စေကာမူ ဤစာချုပ်ကို ပယ်ဖျက်၍ အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အဦများကို အဆောက်အဦများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်းပဋိညာဉ်ခံချက်ပြုလုပ်သည်။

(က) အပိုဒ်(၂)အရ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိသင့်လျော်သည်ဟု ထင်မြင်သည့်နည်းလမ်းအတိုင်း အငှားဂရန်ရသူ၏ နောက်ဆုံးသိရှိရသော လိပ်စာတပ်ပြီး မှတ်ပုံတင်ပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်၊ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်အဆောက်အဦ စသည့်ပစ္စည်းများ၏ ထင်ရှား၍ လူအများ မြင်သာသော နေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါနို့တစ်စာကို ပြဆိုသည့် နည်းလမ်းအတိုင်း ပေးပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီး နောက်ရက်ပေါင်း (၆၀)အတွင်း အငှားစာချုပ်ရသူက အဆိုပါဌာနမှူးအား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း သို့တည်းမဟုတ် အဆိုပါ မြေကွက်ကို ပြန်လည်အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသော စရိတ်အားလုံးနှင့်တကွ အဆိုပါဌာနမှူးသို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါဌာနမှူး ကြေနပ် လောက်အောင် ဆောင်ရွက်လျှင်သော်လည်းကောင်း၊ အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များ အတိုင်း နှစ်ပေါင်း~~ခြောက်ဆယ်~~ **ထူးဆယ်** ကာလ အပိုင်းအခြား၏ ကျန်ရှိသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူ သည့်အချိန်တွင် ထိုမြေကွက်ပေါ်၌ တည်ရှိနေသော အဆောက်အဦ၊ ထိုအဆောက်အဦနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်၊ သို့ရာတွင် မီးကြောင့်သော် လည်းကောင်း အခြားအကြောင်းတစ်ခုခုကြောင့်သော်လည်းကောင်း၊ ပျက်စီးရသည့် အဆောက်အဦ သို့တည်းမဟုတ် ထိုအဆောက်အဦနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိ သည့်အပြင် ယင်းသို့ပြန်လည်သိမ်းယူသည့်အခါ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၊ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ၊ မြို့ပြမြေယာစီမံခန့်ခွဲမှုဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်စီး ပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်း အတွက်မှတပါး အဆိုပါမြေကွက်ပေါ်တွင် ဖြစ်စေ၊ အထဲတွင် ဖြစ်စေ၊ တည်ရှိနေသော အဆောက်အဦနှင့် အခြားပစ္စည်းများ၏ တန်ဘိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း

သို့တည်းမဟုတ် ပျက်စီးယိုယွင်းခြင်းအတွက် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၊ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြို့ပြမြေယာစီမံခန့်ခွဲမှုဌာနနှင့် တာဝန်မရှိစေရန်။

(ခ) အပိုဒ်(၂)အရ ဤစာချုပ်ကို ပယ်ဖျက်ပြီး မဟုတ်လျှင်သော်လည်းကောင်း၊ အငှားစာချုပ်ရသူက နှစ်ပေါင်းကိုးဆယ် ~~ခြောက်ဆယ်~~ကာလ အပိုင်းအခြား 'ကုန်ဆုံးသည့်အထိ အဆိုပါမြေငှားခကို ပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါ မိမိပြုလုပ်သည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောက်ရွက်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူသည် အဆိုပါ မြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်ထားသော အဆောက်အဦများကို အဆောက်အဦများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန်မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့သယ်ယူခြင်းကြောင့် အဆိုပါမြေကွက် ပျက်စီးယိုယွင်းခဲ့လျှင် ထိုမြေကွက်ကို မူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၁၃ ) ခုနှစ် ဇူလိုင် လ ၂၃ ရက်နေ့မှစ၍၊ ပထမ တစ်ဆယ့်ငါးနှစ်ကုန်ဆုံးသောအခါ ဒုတိယတစ်ဆယ့်ငါးနှစ်အတွက် မန္တလေးစည်ပင်သာယာရေး မြေနည်းဥပဒေ အရ စည်းကြပ်သော သုံးလပါတ် မြေငှားခကိုလည်းကောင်း၊ ဒုတိယ တစ်ဆယ့်ငါးနှစ်ကုန်ဆုံးသောအခါ ~~တတိယ တစ်ဆယ့်ငါးနှစ်အတွက်~~ အဆိုပါ နည်းဥပဒေ အရ စည်းကြပ်သော သုံးလပါတ် မြေငှားခကိုလည်းကောင်း၊ ~~တတိယ တစ်ဆယ့်ငါးနှစ်ကုန်ဆုံးသောအခါ စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက်~~ အဆိုပါ နည်းဥပဒေ အရ စည်းကြပ်သော သုံးလပါတ် မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင် ရန် အကယ်၍ အထက်ပါနည်းဥပဒေအတိုင်း မြေငှားခကို ပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ် ရသူသည် ဤအပိုဒ်ခွဲတွင် ပြဋ္ဌာန်းထားသည့် နည်းဥပဒေအတိုင်း မြေငှားခကို ပြောင်းလဲခြင်းမပြုမီ သတ်မှတ် ထားသည့် စည်းကြပ်ဆဲ သုံးလပါတ်မြေငှားခကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါ အခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက် မည်သို့ပင် ပါရှိစေကာမူ ဤစာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်း သုံးဆယ်အတွင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သော မြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သောကြောင့်လည်းကောင်း၊ ပြုလုပ်ထားသော ပဋိညာဉ်ခံချက်များကို မပျက်မကွက် လိုက်နာဆောင်ရွက်ခဲ့သောကြောင့်လည်းကောင်း၊ သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သော သုံးလပါတ် မြေငှားခဖြင့်၊ နောက်ထပ် နှစ်ပေါင်းသုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်းမြေငှားစာချုပ်အသစ်ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံး ခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြားရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကို ပေးအပ်လျှင် ထိုအကြောင်းကြားစာ ရရှိသည့်နေ့မှ ခြောက်လအတွင်း နောက်နှစ်ပေါင်း သုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ် ခံချက်များနှင့် ဖြစ်နိုင်သမျှတူညီသည့် ပဋိညာဉ်ခံချက်များပါရှိသည့် မြေငှားစာချုပ်အသစ်ကို အငှားစာချုပ် ရသူ၏ စရိတ်ဖြင့် အငှားချထားသူက ထုတ်ပေးရန် အကယ်၍ မြေငှားခကို သတ်မှတ်ခြင်း မရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပါတ်မြေငှားခကို အငှားစာချုပ်ရသူက ပေးဆောင်ရန်။

ဤစာချုပ်ပါ စကားရပ်များကို သိရှိနားလည်ကြပြီးဖြစ်သဖြင့် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အစိုးရ၊ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ၊ မြို့ပြမြေယာစီမံခန့်ခွဲမှုဌာန၊ ဌာနမှူးနှင့် ဒုတိယဌာနမှူးတို့ရှေ့တွင် ဤကော်မတီတံဆိပ်ကို ခပ်နှိပ်၍ အဆိုပါဌာနမှူးနှင့် အဆိုပါ ......ဦးသန်းဇော်......သည် ဤစာချုပ်ကို အထက်၌ ဖော်ပြခဲ့သည့်နေ့ရက်တွင် လက်မှတ် ရေးထိုးကြပါသည်။

01213

# မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

## မြို့ပြမြေယာစီမံခန့်ခွဲမှုဌာန

တံဆိပ်

တံဆိပ်ကို မြို့ပြမြေယာ စီမံခန့်ခွဲမှုဌာန၊ ဌာနမှူး နှင့် ဒုတိယဌာနမှူးတို့ ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ ဌာနမှူးနှင့် ဒုတိယ ဌာနမှူးတို့ လက်မှတ်ရေးထိုးသည်။

အသိသက်သေ

၂၃၊၇၊၂၀၁၃

..............................
ဌာနခွဲမှူး (မြို့ပြမြေယာစီမံခန့်ခွဲမှုဌာန)

..............................
ဌာနမှူး

23 JUL 2013

..............................
ဒုတိယဌာနမှူး

အငှားစာချုပ်ရသူ .............................. က လက်မှတ်ရေးထိုးသည်။

အသိသက်သေ

၁။ ..............................

၂။ ..............................

..............................
အငှားစာချုပ်ရသူ

အထက်တွင် ရည်ညွှန်းထားသည့်ဇယား

ခွင့်ပြုပြီး မြေပုံဖြစ်သော လူနေရပ်ကွက်အမှတ် ..............................

မြေတိုင်းရပ်ကွက်အမှတ် ..............................

မန္တလေးမြို့ .............................. မြို့နယ်

အတွင်းရှိ .............................. တန်းစား၊ မြေကွက်အမှတ် .............................. ဖြစ်သည့် ပူးတွဲပါ မြေပုံ၌ မှင်နီဖြင့်ပြထားသောအလျား ........ ပေ၊ အနံ ........ ပေခန့်ရှိသောအလားအလာ

အရှေ့လားသော် ..............................

အနောက်လားသော် ..............................

တောင်လားသော် ..............................

မြောက်လားသော် ..............................

အတွင်းရှိ မြေအားလုံးဧရိယာ .............................. ဧက၊ (စတုရန်းပေ ..............................)

ပြည်ထောင်စုမြန်မာနိုင်ငံတော်

**မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ**




| ၂၀၁၃/၁၄ ခုနှစ်သုံး မြေပုံမှ ရေးကူးပေးသည့် မှန်ကန်ကြောင်း သက်သေခံသည့် မြေငှားဂရန်မြေပုံ |
|---|
| အမည်ပေါက် ဦး ဘမိုး ဇော် |
| မြေတိုင်းရပ်ကွက်အမှတ် ၁၁-၃ |
| လူနေရပ်ကွက်အမှတ် (၁) |
| မြေကွက်အမှတ် ၂-၁ |
| မြေအမျိုးအစား L |
| အလျား ........... × အနံ .............. ဧရိယာ ၀.၂၂၉၅ (ဧက) |
| မြို့နယ် ပြည်ကြီးတံခွန် |
| စကေး ၁" = ၄၀' |
| ထုတ်ပေးသည့်အမှုတွဲအမှတ် ၀၃၄၇/၂၀၁၃-၁၄ |
| |
| |
| |

၁၁.၇.၂၀၁၃

၂၀၁၃/၁၄ ခုနှစ်သုံး မြေပုံ/မြို့မြေစာရင်းမှ ရေးကူးသော ကောက်နုတ်ချက်မိတ္တူမြေပုံ/မြေရာဇဝင်ဖြစ်၍ တိကျမှန်ကန်ကြောင်း ထောက်ခံပါသည်။ (မြို့ပြမြေယာစီမံခန့်ခွဲမှုဌာန)

# အမည်ပေါက်လွှဲပြောင်းခြင်းမှတ်တမ်း

| | |
|---|---|
| မြို့နယ် | ပြည်ကြီးတံခွန် |
| မြေတိုင်းရပ်ကွက်အမှတ် | ၁၁-၃ |
| မြေကွက်အမှတ် | ၂.၁ |
| ဧရိယာ | ၀ ဧကမ ၂၂၉၁၉၈ |
| မြေအမျိုးအစား | L |

| အမှုတွဲအမှတ် နေ့စွဲနှင့် ခွင့်ပြုရက်စွဲ | ဂရန်အမည်ပေါက် နှင့် နိုင်ငံသားအမှတ် | လွှဲပြောင်းသည့် စာချုပ်အမှတ်နှင့်ရက်စွဲ (သို့) တရားရုံးဒီကရီနှင့်ရက်စွဲ | လွှဲပြောင်းခံရသူ (သို့) တရားရုံးဒီကရီရရှိသူ၏ အမည်နှင့် နိုင်ငံသားအမှတ် |
|---|---|---|---|
| ၁ | ၂ | ၃ | ၄ |
| ၀၃၄၃/၂၀၁၃-၂၀၁၄ | ဦးတင်ဌေး ၉/မရတ(နိုင်)၀၄၅၀၄၄ | အရောင်းအဝယ်စာချုပ် အမှတ်၊ ၃၅၄၈/၂၀၁၁ ၂၀.၉.၂၀၁၁ | ဦးသန်းဇော် ၅/ကဘန(နိုင်)၀၁၂၅၁ ၂၆.၃.၂၀၁၃ Computer Scan Complete Land Department Computer MCDC |

မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

မန္တလေး

| | | | |
|---|---|---|---|
| အမည် | ဒေါ်နန်းဆောဂဘာသိန်း | မြို့နယ် | ပြည်ကြီးတံခွန် |
| နိုင်ငံသား/ အမျိုးသား | ၁၃/ကမန(နိုင်)၀၆၇၆၆၁ | မြေတိုင်းရပ်ကွက် | ၁၁-၃ |
| မှတ်ပုံတင်အမှတ် | | လူနေရပ်ကွက်အမှတ် | ၅ |
| မြေငှားစာချုပ်အမှတ် | ၀၁၂၂၁၇/၂၀၁၃-၂၀၁၄ | မြေကွက်အမှတ် | ၂.၈ |
| အမှုတွဲအမှတ်/ နေ့စွဲ | ၀၃၄၆/၂၀၁၃-၂၀၁၄ | မြေကွက်လိပ်စာ | |

